ကုမ္ပဏီအမည် - Shin Feng Global Limited

လုပ်ငန်း - ကွန်ကရစ်ဘလောက်တုံးထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃၁-၁၀-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၂-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၂-၁၁-၂၀၁၅ | ၃၀-၁၁-၂၀၁၅ | |
| | စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၁၈-၁၂-၂၀၁၅ | ၆-၁-၂၀၁၆ | |
| | (ဃ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၁၂-၁၁-၂၀၁၅ | ၇-၁၂-၂၀၁၅ | |
| | ဆောက်လုပ်ရေးဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၂၆-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၀/၂၀၁၅)သို့ တင်ပြခြင်း | ၂-၁၁-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၂-၁၁-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေး အဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၁၂-၁၁-၂၀၁၅ | | |
| ၆ | အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၂၀-၁-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှအဆိုပြုလွှာပြန်လည်တင်ပြလာခြင်း | ၂-၂-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် (၁၀၂) ရက် | | | |

မှတ်ချက်။ ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြရန် ကြန့်ကြာနေပါ၍ ရက်ပေါင်း (၈၀) ကျော်လွန်နေပါသဖြင့် အဆိုပြုလွှာအား ပြန်လည်ပေးပို့ရခြင်းဖြစ်ပါသည်။

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shin Feng Global Limited မှ ကွန်ကရစ် ဘလောက်တုံးများ ထုတ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Shin Feng Global Ltd.<br>- ဦးကျော်မင်းထွန်း(မြန်မာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Huge Wealth Global Limited (ဘရူနိုင်းဒါရုဆလမ်)၇၀%<br>- ရွှေပင်လယ်ထရေးဒင်းကုမ္ပဏီလီမိတက် (မြန်မာ) ၃၀% |
| | လုပ်ငန်းအမျိုးအစား | - ကွန်ကရစ်ဘလောက်တုံးများထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၆၈၊မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂.၇၂၆ဧက (၁၁၀၃၁.၇၄ စတုရန်းမီတာ) |
| | အဆောက်အဦ | - ၈၀ပေ x ၂၀၀ပေ (တစ်ထပ်အဆောက်အဦ ၁ လုံး) |
| | မြေပိုင်ရှင် | - ဦးတင်မြင့်(ခ) ရှီကျင်ဟိုက် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၅၅,၂၀၀<br>- မြေဧရိယာ ၂.၇၂၆ဧက (၁၁၀၃၁.၇၄ စတုရန်းမီတာ) ၁နှစ် တစ်စတုရန်းမီတာလျှင် US$ ၅ |
| | မြေငှားရမ်းကာလ | - ကနဦး ၂၀နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US $ ၁ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | US $ (သန်း) |

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၀၄၉ | ၀.၁၁၅ | ၀.၁၆၄ |
| မြေငှားရမ်းခ | ၀.၀၁၇ | ၀.၀၃၉ | ၀.၀၅၆ |
| အဆောက်အဦကုန်ကျစရိတ် | ၀.၀၆၀ | ၀.၁၄၀ | ၀.၂၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၀.၁၅၀ | ၀.၃၅၀ | ၀.၅၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၀.၀၂၄ | ၀.၀၅၆ | ၀.၀၈၀ |
| စုစုပေါင်း | ၀.၃၀၀ | ၀.၇၀၀ | ၁.၀၀၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၇၅ ဦး |
| | ပြည်တွင်း | - ၇၀ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ်၁၁၀,၀၀၀နှင့်အမြင့်ဆုံးလစာမှာကျပ်၃၅၀,၀၀၀) |

| | | |
|---|---|---|
| | ပြည်ပ | - ၅ဦး (နိုင်ငံခြားမှ ကျွမ်းကျင်ပညာရှင်၅ဦးသည် စက်ပစ္စည်းတပ်ဆင်ပေးမည့်အချိန်တွင် လစာပေးရန်မလိုဘဲလာရောက်တပ်ဆင်ပေးခြင်းဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၂၁၇၂.၀၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၂၀၇၃.၁၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၉၈.၈၆ သန်း<br>- (အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁၂၅၀ နှုန်းဖြင့်တွက်ချက်ထားပါသည်) |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၃၂.၉၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၀၈.၆၀ သန်း |
| | အရင်းကြေကာလ | - ၆ နှစ် ၄လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၁၃,၄၀၀ ယူနစ် |
| ၁၁။ | ထုတ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်း (၆နှစ်မြောက်) | |
| | **အမျိုးအစား** | **ထုတ်လုပ်မှု(Ton)** **ရောင်းဈေးနှုန်း(Kyats/Ton)** |
| | Concrete Block | ၇၂,၄၇၇ ၂၉,၉၇၀ |
| ၁၂။ | Corporate Social Responsibility (CSR) | - ၂ % |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးအန္တရာယ် ကာကွယ်ရေးအတွက် မီးသတ်ဆေးဗူး၊ မီးချိတ်၊ မီးကတ်၊ သဲအိတ်များ ထားရှိမည်ဖြစ်ကြောင်း၊ ရေဂါလံ ၁၀၀,၀၀၀ ဆန့် မီးသတ်ရေကန်များ တည်ဆောက်ပြီး အရေးပေါ် မီးငြိမ်းသတ်နိုင်အောင် စီစဉ်ထားရှိကြောင်း၊ အလုပ်သမားများအား မီးသတ်ကရိယာများ သုံးစွဲနည်းသင်တန်း ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ကုမ္ပဏီအမည် - Shin Feng Global Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ကွန်ကရစ်ဘလောက်တုံးများထုတ်လုပ်ခြင်းလုပ်ငန်း

တည်နေရာ - မြေကွက်အမှတ်-၆၈၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၁သန်း

ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀ %

လုပ်ငန်းသက်တမ်း - ကနဦး ၅၀နှစ် (သက်တမ်းတိုး ၁၀နှစ်၂ကြိမ်)

အရင်းကြေကာလ - ၆ နှစ် ၄ လ

IRR - ၁၄ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၆၂.၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၈၅၁.၄ |
| ၅ | ဝင်ငွေခွန် | ၃၄၂.၉ | ၆၈၅.၈ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၉၈ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၆) ဦး |
| ၈ | CSR (၂ %) | | ၃၁၁.၁ |
| ၉ | မြေနှင့်အဆောက်အဦငှားရမ်းခရငွေ | | ၈၈၃.၂ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၇၀) ဦး အလုပ် အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကိုအထောက်အကူပြုစေပါ သည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | ကျပ် ၄၀၈.၄ သန်း | ကျပ် ၂၉၃၀.၇ သန်း |
| | Cost : Benefit | ၁ : ၇ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက- ၃/န- ၁၂၈၈/၂၀၁၆(၂၈၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့
## တင်ပြမည့် အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Shin Feng Global Limited မှ ကွန်ကရစ်ဘလောက်တုံးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ဘရူနိုင်းဒါရုဆလမ် Huge Wealth Global Limited မှ ၇၀ % နှင့် မြန်မာနိုင်ငံ ရွှေပင်လယ် ထရေးဒင်းကုမ္ပဏီလီမိတက်မှ ၃၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shin Feng Global Limited တည်ထောင်ကာ မြေကွက်အမှတ်-၆၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၇၂၆ဧက (၁၁၀၃၁.၇၄စတုရန်းမီတာ)အား ငှားရမ်း၍ ကွန်ကရစ်ဘလောက်တုံးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးတင်မြင့်(ခ) ရှီကျင်ဟိုက် နှင့် Shin Feng Global Limited တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ Huge Wealth Global Limited နှင့် ရွှေပင်လယ်ထရေးဒင်းကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့် Shin Feng Global Limited ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)၊ အဆောက်အဦ၏ Layout Plan တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၂.၇၂၆ဧက (၁၁၀၃၁.၇၄ စတုရန်းမီတာ) အတွက် (၁)နှစ် တစ်စတုရန်းမီတာလျှင် US$ ၅ နှုန်းဖြင့် ငှားရမ်းမည်ဖြစ်ပြီး မြေငှားသက်တမ်းမှာ ကနဦး ၂၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပါသည်။ တည်ဆောက်မှုကာလ ၁နှစ် ဟု ဖော်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု US $ ၁.၀၀၀သန်းဖြစ်ပြီး ထည့်ဝင်မှုပုံစံမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

(US $ သန်း)

| | ပြည်တွင်း(၃၀%) | ပြည်ပ(၇၀%) | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၀၄၉ | ၀.၁၁၅ | ၀.၁၆၄ |
| မြေငှားရမ်းခ | ၀.၀၁၇ | ၀.၀၃၉ | ၀.၀၅၆ |
| အဆောက်အဦကုန်ကျစရိတ် | ၀.၀၆၀ | ၀.၁၄၀ | ၀.၂၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၀.၁၅၀ | ၀.၃၅၀ | ၀.၅၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၀.၀၂၄ | ၀.၀၅၆ | ၀.၀၈၀ |
| စုစုပေါင်း | ၀.၃၀၀ | ၀.၇၀၀ | ၁.၀၀၀ |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၇၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော ကွန်ကရစ်ဘလောက်တုံးများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၆နှစ်မြောက်)၏ ထုတ်လုပ်မှုအရေအတွက်နှင့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု** (Ton) | **ရောင်းဈေးနှုန်း** (Kyats/Ton) |
|---|---|---|
| Concrete Block | ၇၂,၄၇၃ | ၂၉,၉၇၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂၁၇၂.၀၁ |
| (ခ) | အသုံးစရိတ် | ၂၀၇၃.၁၅ |
| (ဂ) | အသားတင်အမြတ် | ၉၈.၈၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၃၂.၉၅ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၀၈.၆၀ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆နှစ် ၄လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၄ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၅၀ကျပ် နှုန်းဖြင့် တွက်ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းနှင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၅၄/၂၀၁၅ (၂၇-၁၁-၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ်(၃၀)မှ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ တစ်ဖက်ပါအချက်များအတိုင်း လိုက်နာ

ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်း ဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေး ဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility- CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(၂) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းဆောင်ရွက်ရန်နှင့် EIA အစီရင်ခံစာတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက် မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့်ပတ်ဝန်းကျင်စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP)ရေးဆွဲ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ (၁-၂-၂၀၁၆) ရက်စွဲပါစာဖြင့် EIA, EMP အစီရင်ခံစာရေးဆွဲတင်ပြရန် NeoTech Myanmar Co.,Ltd. သို့အပ်နှံထားပြီး ၂၀၁၆ခုနှစ် ဧပြီလ ပထမပတ်တွင်ပြီးစီးနိုင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။**

**နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းတွင် လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ကုန်ချောအမျိုးအစားများ၊ ၄င်း၏အတိုင်းအတာ၊ ကုန်ချော(၁)ယူနစ်အတွက် သုံးစွဲမည့် ကုန်ကြမ်းအချိုးအဆများကို ပြန်လည်တင်ပြရန် လိုအပ်ကြောင်း

ပြန်ကြားထားပါသည်။ ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြထားခြင်းအပေါ် ဌာနမှ စိစစ်လက်ခံပြီး ဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာနမှ** Average Compressive Strength မှာ 560Psi သာရှိသဖြင့် သတ်မှတ်ချက်အောက် လျော့နည်းနေကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားခြင်းအပေါ် **ကုမ္ပဏီမှ အမှန်တကယ်ထုတ်လုပ်လျှင် Customers များ၏ လိုအပ်ချက်များအပေါ်မူတည်၍ အမျိုးမျိုးထုတ်လုပ်မည်ဖြစ်ကြောင်း၊ ကုန်ပစ္စည်းထုတ်လုပ်ရာတွင် ပါဝင်သည့် ကုန်ကြမ်း၏ အရည်အသွေးပေါ်မူတည်၍ Psi အပြောင်းအလဲရှိကြောင်း၊ ပါဝင်သည့် Chemical အနည်းအများအပေါ် မူတည်ကြောင်းနှင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို အကောင်းဆုံး ကုန်ကြမ်းများဖြင့် အရည် အသွေးမှန်ကန်ကောင်းမွန်သော ပစ္စည်းများထုတ်လုပ်မည်ဖြစ်ကြောင်း ရှင်းလင်း တင်ပြထားပါသည်။ နောက်ဆက်တွဲ(ဃ)**

၁၁။ ကျပ်ငွေအထောက်အထားအဖြစ် ရွှေပင်လယ် ထရေးဒင်းကုမ္ပဏီလီမိတက်အမည်ဖြင့် မြန်မာ့အရှေ့တိုင်းဘဏ် လီမိတက်တွင် ၂၇-၁၀-၂၀၁၅ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၂၀၀,၁၀၀,၀၀၀.၀၀ ရှိကြောင်းနှင့် နိုင်ငံခြားငွေအထောက်အထားအနေဖြင့် Shin Feng Global Limited အမည်ဖြင့် ကမ္ဘောဇဘဏ် (ကျွန်းတောလမ်းဘဏ်ခွဲ)တွင် ၂၁-၁၂-၂၀၁၅ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၅၀,၀၈၉.၇၀ ရှိကြောင်း တင်ပြထားပါသည်။ ဘရူနိုင်းဒါရုဆလမ်တွင် ဖွဲ့စည်းတည်ထောင်ထား သည့် Huge Wealth Global Limited ၏ ကုမ္ပဏီမှတ်ပုံတင်အမှတ် NBD/14438 နှင့် ရွှေပင်လယ် ထရေးဒင်းကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်အမှတ် ၂၅/၁၉၉၂-၁၉၉၃ များအား တင်ပြထားပါသည်။ Shin Feng Global Limited ၏ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့ မှတ်တမ်း(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ မြေငှားစာချုပ် (မူကြမ်း)၊ ဒါရိုက်တာစာရင်းနှင့် နိုင်ငံကူးမှတ်ပုံတင် (မိတ္တူ)များကိုတင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** ကုမ္ပဏီမှ မီးဘေးအန္တရာယ် ကာကွယ်ရေး အတွက် မီးချိတ်၊ မီးကတ်၊ **သဲအိတ်များ** ထားရှိမည်ဖြစ်ကြောင်း၊ ရေဂါလံ ၁၀၀,၀၀၀ ဆန့် မီးသတ် ရေကန်များ တည်ဆောက်ပြီး အရေးပေါ် မီးငြိမ်းသတ်နိုင်အောင် စီစဉ်ထားရှိကြောင်း၊ အလုပ် သမားများအား မီးသတ်ကိရိယာများ သုံးစွဲနည်း သင်တန်းပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ Shin Feng Global Limited မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ လုပ်ငန်းများအတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%ကို အသုံးပြုခြင်းပါရှိသည့် Corporate Social Responsibility Plan၊ စက်ရုံဝန်ထမ်းများ သက်သာချောင်ချိရေး၊ လုပ်ငန်းခွင်သာယာရေး၊ ကျန်းမာရေးတို့အတွက် စီစဉ်ဆောင်ရွက်မှုတို့ကို တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၄၉/၂၀၁၄ ဖြင့် ထုတ်ပြန် ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း

စာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၀/၂၀၁၅ (၂-၁၁-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က)ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည် ဖြစ်ပါသည်။

(ခ) Shin Feng Global Limited၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ) အမှတ် ၆၄၀ အပ်ဖ်စီ/၂၀၁၅-၂၀၁၆(ရက) ရရှိထားကြောင်းတင်ပြထားပါသည်။

(ဂ) ထုတ်လုပ်မည့် ကုန်ချောများအား ထိုင်ဝမ်တွင် ထုတ်လုပ်နေသော ကုန်ပစ္စည်းများအတိုင်း နည်းပညာမြင့်မားစွာဖြင့် ထုတ်လုပ် ဖြန့်ဖြူးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Shin Feng Global Limited တည်ထောင်၍ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၆၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၇၂၆ဧက (၁၁၀၃၁.၇၄စတုရန်းမီတာ)အား ငှားရမ်း၍ ကွန်ကရစ် ဘလောက်တုံး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Shin Feng Global Limited | Huge Wealth Global Limited Represented by | Britannia House,41,4th Floor, Cator Road, Bander Seri Begawan Huge Wealth BS 8811, Negara Brunei Darussalam |
| | | (၁)Mr.Ko, Chien-Tsung<br>Director<br>Chinese<br>P.P No 301880632 | Britannia House,41,4th Floor, Cator Road, Bander Seri Begawan Huge Wealth BS 8811, Negara Brunei Darussalam |
| | | (၂) Mr.Su, Hsun-Hsin<br>Director<br>Chinese<br>P.P No 309790738 | Britannia House,41,4th Floor, Cator Road, Bander Seri Begawan Huge Wealth BS 8811, Negara Brunei Darussalam |
| | | (၃) Mr.Hsu, Jin-I<br>Director<br>Chinese<br>P.P No 301055787 | Britannia House,41,4th Floor, Cator Road, Bander Seri Begawan Huge Wealth BS 8811, Negara Brunei Darussalam |
| | | Shwe Pin Le Trading Co., Ltd. | No.189/B, 52nd Sub-Street Thukha Street, Hlaing Township, Yangon, Myanmar |
| | | (၁) U Kyaw Min Tun<br>Managing Director<br>Myanmar<br>9/Kha Ah Za(N) 004642 | No.189/B, 52nd Sub-Street Thukha Street, Hlaing Township, Yangon, Myanmar |
| | | (၂) U Shi Kyi Yel<br>Director<br>Myanmar<br>12/La Ma Ta(N)027638 | No.189/B, 52nd Sub-Street Thukha Street, Hlaing Township, Yangon, Myanmar |

| | | | |
|---|---|---|---|
| | | (၃) U Shi Kyi Hike(a) U Tin Myint<br>Director<br>Myanmar<br>9/Ma Na Ma(N)080720 | Block No.287,35th Street,<br>Between 87,88 Street,East<br>Dewun, South West Township,<br>Mandalay |
| | | (၄) U Shi Kyin Saing<br>Director<br>Myanmar<br>13/La Ya Na(N)084689 | Block No.287,35th Street,<br>Between 87,88 Street,East<br>Dewun, South West Township,<br>Mandalay |
| | | (၅) U Le Kyan Shun<br>Director<br>Myanmar<br>13/La Ya Na(N)053902 | Block No.287,35th Street,<br>Between 87,88 Street,East<br>Dewun, South West Township,<br>Mandalay |
| | | (၆)U Shi Kyin Lon(a)U Kyaw Swe<br>Director<br>Myanmar<br>13/ La Ya Na(N)084678 | No.5, Quarter,Lashio<br>Township,Northern Shan State. |
| | | (၇) Daw Nang Hnin Wai<br>Director<br>Myanmar<br>13/Ma Ka Na(N)003957 | No.189/B,52 Sub-Street, Thukha<br>Street, Hlaing Township,<br>Yangon, Myanmar |
| | | (၈) Daw Nang Khin May<br>Director<br>Myanmar<br>9/Ma Na Ma(N)080719 | Block No.287,35th Street,<br>Between 87,88 Street,East<br>Dewun, South West Township,<br>Mandalay |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉ ၇၈၆၀၀၀၆၀၈/၀၉၂၅၄၀၁၅၉၉၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးကျော်မင်းထွန်း/ဦးဆန်းဝင်းထွန်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ကွန်ကရစ်ဘလောက်တုံးများထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

စာအမှတ်- ၃၃၄၄
ရက်စွဲ- ၆/၁၂/၁၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်

M-2108 3/12

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ န-၁၂၈၈ / ၂၀၁၅ (၁၅၆၁-က)

၁။ ဘရူနိုင်းဒါရုဆလမ်နိုင်ငံ Huge Wealth Global Limited မှ ၇၀% နှင့် မြန်မာနိုင်ငံ ရွှေပင်လယ်ထရေးဒင်းကုမ္ပဏီလီမိတက်မှ ၃၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shin Feng Global Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၆၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂. ၇၂၆ ဧက(၁၁၀၃၁. ၇၄ စတုရန်းမီတာ)အား ငှားရမ်း၍ ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၇၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၆၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂. ၇၂၆ ဧက (၁၁၀၃၁. ၇၄ စတုရန်းမီတာ)အား မြေပိုင်ရှင် ဦးတင်မြင့်(ခ)ရှီကျင်ဟုံက် ထံမှ Shin Feng Global Ltd. က ငှားရမ်းခအဖြစ် မြေတစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (5.0)ဒေါ်လာနှုန်းဖြင့် တစ်နှစ်တစ်ကြိမ် စာချုပ်ချုပ်ဆိုပြီး (၂၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

1/2015/Cabinet/54.,(9)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၇. ၁၁. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၀)အရ Shin Feng Global Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Shin Feng Global Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

-5439
3.12.15

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၄၃၈၃ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

-2114
4.12

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂ - ၁၁ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၃ / န - ၁၂၈၈ / ၂၀၁၅ (၁၅၆၁ - ခ)

၁။ ဘရူနိုင်းဒါရုဆလမ်နိုင်ငံ Huge Wealth Global Limited မှ ၇၀ % နှင့် မြန်မာနိုင်ငံ ရွှေပင်လယ်ထရေးဒင်းကုမ္ပဏီလီမိတက်မှ ၃၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shin Feng Global Ltd. တည်ထောင်ကာ မြေကွက်အမှတ် - ၆၈၊ မြေတိုင်းရပ်ကွက်အမှတ် - ၁၄ ၊ ရွှေသံလွင်စက်မှုဇုန် ၊ လှိုင်သာယာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ( ၂.၇၂၆ ) ဧက ( ၁၁၀၃၁.၇၄ စတုရန်းမီတာ ) ငှားရမ်းပြီး ကွန်ကရစ် ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ စက်ရုံတည်ဆောက်ရေး လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင် လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ ၊ တုန်ခါမှုများ ၊ ယာဉ် / ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ ၊ စက်ဆီ၊ ချောဆီ ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်မြေထု ၊ ရေထု ၊ လေထု နှင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ ကွန်ကရစ် ဘလောက်တုံးများ ထုတ်လုပ်ရာတွင် အသုံးပြုမည့် ဘိလပ်မြေ၊ သဲနှင့် ကျောက်စရစ်များမှ ထွက်ရှိလာမည့် အမှုန်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ပြီး ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ရေ နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ပြီး လုပ်သားများ၏ ကျန်းမာရေးနှင့်စပ်လျဉ်းသည့် အန္တရာယ်များ ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်ပစ္စည်းများကြောင့် အသံဆူညံမှုဖြစ်စေခြင်း၊ ကုန်ကြမ်း နှင့် ကုန်ချောပစ္စည်းများ သယ်ယူပို့ဆောင်ခြင်းကြောင့် ယာဉ်ကြောပိတ်ဆို့မှု ဖြစ်စေနိုင်ခြင်းနှင့် သယ်ယူပို့ဆောင်ရေးယာဉ်များမှ ထွက်ရှိလာမည့် စက်ဆီ ၊ ချောဆီ ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု ၊ လေထု ၊ မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း စသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Shin Feng Global Ltd. မှ ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဖက်ဖော်ပြပါ အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ နှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည်မဖော်မီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) လုပ်ငန်းဆောင်ရွက်ရန် နှင့် EIA အစီရင်ခံစာ တင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP) ရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြရန် နှင့် EMP အစီအစဉ်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ် အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ(၂)၂၀၁၅-၂၀၁၆ (၂၈၉၇)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်

9-2157
10/12/15

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၂၈၈ / ၂၀၁၅ (၁၅၆၁-ဂ)

၁။ Shin Feng Global Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ်(၆၈)တွင် ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စက်နှင့်စက်ပစ္စည်းများဖြည့်တင်းမှု ပြည့်စုံပါသည်။

(စ) နည်းစဉ်ထုတ်လုပ်မှုနှင့် လူအင်အား အချိုးအစား ဆီလျော်မှုရှိပါသည်။

(ဆ) Annex(4)&(7)အရ ကုန်ချောအမျိုးအစားများ၊ ၎င်း၏အတိုင်းအတာ၊ ကုန်ချော(၁)ယူနစ်အတွက် သုံးစွဲမည့် ကုန်ကြမ်းအချိုးအဆများကို ပြန်လည် တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Shin Feng Global Ltd. မှ ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃၀.၁၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

Myanmar Investment Commission

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၀၁-၆၅၈၁၂၈ စာအမှတ်၊ရက- ၃/န- ၁၂၈၈/၂၀၁၅(၇၂၉၈)

🖷 -၀၁-၆၅၈၁၄၁ ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

1.023
6/1

**အဆိုပြုလွှာအပေါ်တပ်မံစိစစ်ချက်**

Shin Feng Global Ltd.သည် ကွန်ကရစ်ဘလောက်တုံးထုတ်လုပ်ခြင်းလုပ်ငန်း အတွက် ပေးပို့ခဲ့သော သဘောထားမှတ်ချက် နှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည် ပြင်ဆင်တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကိုအောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြု ပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၈.၁၂.၂၀၁၅

အတွင်းရေးမှူး(ကိုယ်စား)

(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁။ | စက်မှုဝန်ကြီးဌာန | (ဝင်းနိုင်)<br>လက်ထောက်အတွင်းဝန်<br>(ညွှန်ကြားရေးမှူး)<br>ဝန်ကြီးရုံး<br>စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/ ✓<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | (signature) ၅/၁ |
| ၂။ | အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဦးမင်းသူကျော် | လက်ထောက်<br>[illegible]<br>[illegible] | လက်ခံနိုင်ပါသည်/ ✓<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | (signature) |

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၂၁/ ဌာနခွဲ - ၂ / MIC / ၂၀၁၅(စီ၁၄၄၆)
ရက် စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂ - ၁၁ - ၂၀၁၅ ရက်နေ့စွဲပါ စာအမှတ်၊ ရက-၃/န-၁၂၈၈/၂၀၁၅(၁၅၆၁-ဃ)

၁။ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ မြေတိုင်း ရပ်ကွက်အမှတ်(၁၄) ၊ ရွှေသံလွင် စက်မှုဇုန်ရှိ မြေ(၂.၇၂၆)ဧက (၁၁၀၃၁.၇၄) စတုရန်း မီတာအား ငှားရမ်း၍ ကွန်ကရစ်ထုတ်ကုန်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် Shin Feng Global Ltd မှ အဆိုပြုတင်ပြလာခဲ့ပြီး ထုတ်လုပ်မည့် ကွန်ကရစ်များနှင့် ပတ်သက်၍ တွေ့ရှိချက် ၊ အဆင့်သတ်မှတ်ချက်များ ပြုလုပ် ပေးရန်နှင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါ စာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ အဆောက်အဦသုတေသန ဓါတ်ခွဲခန်းများရုံးမှ Shin Feng Global Ltd သို့ ကွန်ကရစ် နမူနာများ အမြန် ပေးပို့ပါရန် ဆက်သွယ်တောင်းခံခဲ့သော်လည်း ကုမ္ပဏီမှ စက်ရုံထုတ်လုပ်မှု မစတင်ရသေးပါသဖြင့် နမူနာပစ္စည်းများ ပေးပို့နိုင်ခြင်း မရှိပါကြောင်း ပြန်ကြားလာသည့်အတွက် စစ်ဆေးမှုမပြုလုပ်နိုင်ခဲ့ပါ။

၃။ သို့ရာတွင် အဆိုပါ ကွန်ကရစ်ထုတ်ကုန်များ၏ ထုတ်လုပ်မှုနည်းစဥ် နှင့် စံချိန်စံညွှန်း (Specification) များ ၊ စာရွက်စာတမ်း အထောက်အထားများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှတဆင့် ပေးပို့မည်ဆိုပါက တင်ပြလာသော စာရွက်စာတမ်းများအရ စံချိန်စံညွှန်း ကိုက်ညီမှုရှိ/မရှိ စိစစ် ပြန်ကြားပေးနိုင်မည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကျော်လင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ အဆောက်အဦဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ် ၊ ၂၁ / ဌာနခွဲ - ၂ / MIC / ၂၀၁၆(စီ ၂၉၀)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ နိုဝင်ဘာ လ (၁၂) ရက်နေ့စွဲပါစာအမှတ်၊ရက-၃/န-၁၂၈၈/၂၀၁၅(၁၅၆၁-ဃ)

၁။ Shin Feng Global Ltd မှ ကွန်ကရစ်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသဖြင့် ထုတ်လုပ်မည့် ကွန်ကရစ်များနှင့် ပတ်သက်၍ တွေ့ရှိချက် ၊ အဆင့်သတ်မှတ်ချက်များ ပြုလုပ်ပေးနိုင်ပါရန်နှင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ Shin Feng Global Ltd မှ ထုတ်လုပ်မည့် ကွန်ကရစ်ထုတ်ကုန်ပစ္စည်း Sample များအား ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ အဆောက်အဦသုတေသနဓါတ်ခွဲခန်းများတွင် Compressive Strength နှင့် Water Absorption များကို ရိုးရိုးရေတွင် (၂၄)နာရီကြာ နှစ်မြှုပ်ပြီးစမ်းသပ်ခဲ့ရာ Average Absorption (17.46%)မှာ သတ်မှတ်ချက်နှင့် ကိုက်ညီ သော်လည်း Average Compressive Strength မှာ 560Psi သာရှိသဖြင့် သတ်မှတ်ချက် အောက် လျော့နည်းနေပါသည်။အဆိုပါကုမ္ပဏီမှ ပေးပို့လာသော ASTM Designationများ မှာလည်း မှန်ကန်မှုရှိကြောင်း စစ်ဆေးတွေ့ရှိရပါသဖြင့် ၄င်း ASTM Designation များနှင့် ကိုက်ညီစွာထုတ်လုပ်မည်ဆိုပါက ဆောက်လုပ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ကျော်လင်း ၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ် ၊ အဆောက်အဦဦးစီးဌာန။

MIC Advice

# SHIN FENG GLOBAL LIMITED.

**OFF : No. 189/B, Corner of 52nd St., & Thukha St., Hlaing Tsp, Yangon, Myanmar.**

**Tel : 09-786000608.**

Shin Feng Global Ltd.
No..............
Date............

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (၂၃)ရက်

အကြောင်းအရာ ။ ။ **Shin Feng Global Ltd.အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်ပါမည်ဟုဝန်ခံကတိပြုတင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် - ရက-၃/န-၁၂၈၈/၂၀၁၆(၂၈၃)**

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် ကွန်ကရစ်ဘလောက်တုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်သို့ အဆိုပြုတင်ပြလျှောက်ထားသော ကုမ္ပဏီတစ်ခုဖြစ်ပါသည်။

၂။ ယခုအခါဆောက်လုပ်ရေးဝန်ကြီးဌာနမှ လမ်းညွှန်ချက်အရ၊ ကျွန်တော်များ Sample ပေးပို့သော ပစ္စည်းမှာ Average Compressive Strength မှာ (560) PSI ရှိသောအနေအထားဖြစ်ပါသည်။ အမှန်တစ်ကယ်ထုတ်လုပ်လျှင် Customers များ၏ လိုအပ်ချက်များပေါ် မူတည်၍ အမျိုးမျိုးထုတ်လုပ်မည်ဖြစ်ပါသည်။ ယခုမြန်မာပြည်တွင်အသုံးများသည့်ပစ္စည်းမှာ Density (900) ကျော်မှ (1100) ကျော်ရှိပြီး Compressive Strength မှာ (1400 PSI) ခန့်ရှိပါသည်။ အဆိုပါအရည်အသွေးကိုလည်း ကျွန်တော်များ စက်ရုံမှ ထုတ်လုပ်ဖြန့်ဖြူးမည်ဖြစ်ပါသည်။ Density (900) မှာ PSI (1000) ခန့်ရှိပြီး Light Concrete ဖြစ်ပြီး၊ ရေတွင်ပေါ်ပါသည်။

၃။ ကုန်ပစ္စည်းထုတ်လုပ်ရာတွင်ပါဝင်သည့် ကုန်ကြမ်း၏အရည်အသွေးပေါ် မူတည်ပြီး၊ PSI အပြောင်းအလဲရှိပါသည်။ ပါဝင်သည့် Chemical အနည်းအများပေါ်လည်း မူတည်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီထုတ်လုပ်မည့် ကုန်ပစ္စည်းများမှာ အကောင်းဆုံး ကုန်ကြမ်းများဖြင့် အရည်အသွေးမှန်ကန်ကောင်းမွန်သော ပစ္စည်းများထုတ်လုပ်ပါမည်ဟု ဝန်ခံကတိပြု ပါသည်။

လေးစားစွာဖြင့်

Kyaw Min Tun
Managing Director
Shin Feng Global Ltd.

# SHIN FENG GLOBAL LIMITED

**(Joint Venture Company)**

**Manufacturing of Concrete Blocks**

**Proposal of the promoter to make Foreign Investment in the Republic of the Union of Myanmar.**

The Chairman,

Myanmar Investment Commission,

Yangon, the Republic of the Union of Myanmar.

Date: 20 - 10 , 2015.

**Subject:** **Application for Investment Permit to invest of Manufacturing for Concrete Products**

Dear Sir,

We would like to inform you that we will set up Joint Venture (JV) Company with Capital contribution of (30%) by Shwe Pin Le Trading Co.,Ltd. (incorporated in the Republic of the Union of Myanmar) and (70%) by " Huge Wealth Global Ltd." (incorporated in Brunei Darussalam) we will set up J.V Co., Ltd. " Shin Feng Global Ltd " in Shwe Than Lwin Industrial Zone, Hlaing Tharyar Township, Seikkanthar Street, No.68, Block (14), Yangon, the Republic of the Union of Myanmar. We will build the factory for manufacturing of Construction materials. (Concrete products).

We will carry out the manufacturing Concrete products successfully in the Republic of the Union of Myanmar. Most expenses will be incurred in Kyats and US$. All calculations will be made in Kyat and we will distribute our concrete products and selling income will be in Kyats.

We hope the above mentioned will meet the requirements and have submitted the our Factory Projects Proposal with attached documents.

(a) Ref: of business production plans and calculations, and Projection statements.
(b) Land lease agreement (Draft).
(c) Company's MOA, AOA and etc…..
(d) J.V Agreement and Other necessary documents.
(e) We will develop the project of manufacturing for our Concrete products will be produced high quality and reasonable, cheap selling price to distribute of the whole Myanmar.

So, we hope our submission will be considered favorably of the process. Thanking you.

Your sincerely,

Kyaw Min Tun

Promoter

The Chairman,

Myanmar Investment Commission,

Yangon, the Republic of the Union of Myanmar.

Date: 20 - 10 - 2015.

**Subject:** **Application for Tax exemption, reliefs and privileges.**

Dear Sir,

We would like to inform you that we are applying for our proposal of the following exemptions and reliefs of the Republic of the Union of Myanmar Foreign Investment Law.

(1) Exemption from Custom duties and all other internal taxes on imported construction materials, machineries and equipments, raw materials used in the factory business, commercial production throughout the operations.

(2) Exemption from income tax for a period extending to (5) consecutive years commencing from the first profit year after recovering all accumulated losses from previous years.

(3) Exemption from income tax on profit of the business it is maintained reserve fund and re-invested there in within one year after the reserve is made.

(4) Rights to pay income tax on foreigners at the rates applicable to the citizens residing within the Country.

Therefore, we hope our proposal submission will be considered favorably from the Myanmar Investment Commission.

Thanking you,

Sincerely yours,

Kyaw Min Tun

(Promoter)

Shin Feng Global Ltd

To,

The Chairman,

Myanmar Investment Commission,

Yangon, the Republic of the Union of Myanmar.

Date: 20-10-2015

**Subject:** **Provision of Facilities for Staffs and Labours welfare.**

Dear Sir,

We are pleased to inform you that we will set up J.V Company and Factory in Shwe Than Lwin Industrial Zone, Hlaing Tharyar Township, to invest in the Republic of the Union of Myanmar under the Myanmar. Foreign Investment Law. We will arrange the Staffs and Labours welfare for it as below.

(a) To give the good salary and over time charges according to the Ministry of Labour Law.
(b) To give bonus for staffs and labours regularly.
(c) To arrange free ferry services.
(d) To arrange social welfare facilities.

Thanking You.

Sincerely yours,

---------------------

Kyaw Min Tun

(Promoter)

To,

The Chairman,

Myanmar Investment Commission,

Yangon, the Republic of the Union of Myanmar.

Date: 20.10.2015

**Subject:** **To prevent for Fire Escape of Factory.**

Dear Sir,

We are pleased to inform you that we are setting up J.V Company under the Myanmar Foreign Investment Law. We will implement of the manufacturing of Construction materials Concrete Products Factory in Hlaing Tharyar Township, Shwe Than Lwin Industrial Zone.

(1) We will build the factory including Steel Structure building with Steel tanks and Concrete tanks for storage water about (100,000) gals for using if fire fighting.

(2) We will arrange fire extinguishers and fire fighting equipments.

(3) We will give training to prevent fire Escape.

Thanking you.

Sincerely yours,

--------------------

Kyaw Min Tun

(Promoter)

To,

The Chairman,

Myanmar Investment Commission,

Yangon, the Republic of the Union of Myanmar.

Date: 20-10-2015.

**Subject:** **To protect for Environmental Impact.**

Dear Sir,

We would like to inform you that we will arrange for protection of Environmental Impact of mainly subject for our factory.

(1) We will obtain all of the Rules and regulations according to the YCDC's disciplines for the factory building and areas free from environmental and social impacts.

(2) We will arrange for the environment by cleaning factory building area.

(3) We will arrange plantation of trees for nearby factory building area.

Thanking you,

Sincerely yours,

---------------------

Kyaw Min Tun

(Promoter)

To,

The Chairman

Myanmar Investment Commission,

Yangon.

Date : 27.Oct.2015

Subject : **To Undertake for Corporate Social Responsibilities (CSR) of Shin Feng Global Ltd.**

Dear Sir

We are pleased to inform you that our Company undertakes for (2%) of net profit earned from our business will be contributed towards Corporate Social Responsibilites (CSR). And the we will use this (CSR) funds when happening of Natural Disaster from Myanmar such as flood, storms, etc….. to help of our people.

Thanking you,

Sincerely yours

U Kyaw Min Tun

Promoter

Shin Feng Global Ltd.

To,

The Chairman

Myanmar Investment Commission,

Yangon.

Date : 27.Oct.2015

Subject : **To Undertake for Income Tax Payment of Labour's Salary**

We have a great to inform you that Shin Feng Global Ltd will be paid for the staff/ labour salary per year of total Kyat (2,000,000/-) (Kyat Two Million Over), it is obtained according to income Tax Law. So, we hereby undertake to do above mentioned this matter.

Thanking You,

Sincerely Yours.

U Kyaw Min Tun

Promoter

Shin Feng Global Ltd

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

# ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE

# FROREIGN INVESTMENT IN THE

# REPUBLIC OF THE UNION OF MYANMAR

Form (1)

**Proposal Form of Investor/ Promoter for the investment to be made in the Republic of the Union of Myanmar**

**To,**

**Chairman,**

**Myanmar Investment Commission**

Reference No:

Date:

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following particulars:-

1. The Investor's or Promoter's-
   - (a) Name ............ U Kyaw Min Tun ............
   - (b) Father's Name ............ U Tin Myint (a) Shi Kyin Hike ............
   - (c) ID No./Passport No. ............ 9/Kha Ah Za (N) 004642 ............
   - (d) Citizenship ............ Myanmar ............
   - (e) Address : ............ No. 189/B, 52 Sub - street, Thukha St, ............
     - (i) Addres in Myanmar ............ Hlaing Township, Yangon Myanmar. ............
     - (ii) Residence abroad ............
   - (f) Name of Principle Organization ............ Shwe Pin Le Trading Co.,Ltd ............
   - (g) Type of Business ............ Trading / Industry ............
   - (h) Principle Company's Address : ............ No. 189/B, 52 Sub - street, Thukha St, ............ Hlaing Township, Yangon Myanmar. ............

2. If the investment business is formed under Joint Venture, partners':-
   - (a) Name ............ Mr. Ko, Chien Tsung ............
   - (b) Father's name ............ Mr. Ko, Tsung ............
   - (c) ID/ NRC No./ Passport No. ............ TWN - 301880632 ............
   - (d) Citizenship ............ Taiwanese ............
   - (e) Address ............
     - (i) Address in Myanmar ............
     - (ii) Residence abroad ............

(f) Parent Company ........Huge Wealth Global Ltd.........................................

(g) Type of Business ........International Business.........................................

(h) Parent Company's Address ....Britannia House, 41, 4th floor, Cator Road,......

................Bandar Seri Begawan, BS - 8811, Negara, Brunei Darussalam......

**Remarks:** The following documents need to attach according to the above paragraph (1) . and (2) :-

(1) Company Registration Certificate (Copy);

(2) National Identification Card (Copy) and Passport (Copy);

(3) Evidences about the business and financial conditions of the participants ..... of the proposed investment business;

3. Type of proposed investment business:-

(a) Manufacturing ........Manufacturing of concrete blocks..................................

(b) Services Business related with manufacturing .................................................

..........................................................................................................

(c) Service ..........................................................................................

(d) Others ..........................................................................................

**Remarks:** Expressions about the nature of business with regard to the above paragraph(3)

4. Type of business organization to be formed-

(a) One hundred percent .......................................................................

(b) Joint Venture:

(i) Foreigner and Citizen ......Foreigner 70% and Citizen 30%........................

(ii) Foreigner and Government Department/ Organization ..............................

..........................................................................................................

(c) By Contract based :

(i) Foreigner and Citizen ....Foreigner 70% and Citizen 30%........................

(ii) Foreigner and Government Department/ Organization ..............................

..........................................................................................................

***Remarks:*** The following information needs to attach for the above Paragraph (4):-

(i) Share ratio for the authorized capital from abroad and local, names, citizenships, addresses and occupations of the directors;

(ii) Joint Venture Agreement (Draft) and recommendation of Attorney General's Office if the investment is related with the State;

(iii) Contract (Agreement) (Draft)

